# ကန့်သတ်

အကြောင်းအရာ။ ရခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Europe & Asia Beverages Company Limited မှ အချိုရည်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Europe & Asia Beverages Company Limited |
| | ရင်းနှီးမြှုပ်နှံသူ | - ဦးကျော်ဝင်းထွန်း |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ရခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - အချိုရည် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်-၇၊ ၁၁၊ ၁၃၊ ၁၄၊ ၁၇၊ ၁၈၊ အကွက်အမှတ် ၀-၁၁၊ ဦးပိုင်အမှတ်- ၁၂၀၊ ၁၂၁၊ ၁၃၃၊ ၁၃၄၊ ၁၃၅၊ ၁၃၆၊ ၁၃၇၊ ၁၃၈၊ ၁၃၉၊ အကွက်အမှတ် လ-၁၀၊ (က) ရပ်ကွက်၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး |
| ၃။ | မြေငှားသက်တမ်း | - ကနဦး ၁၀ နှစ်၊ ၅ နှစ်သက်တမ်းတိုးနှစ်ကြိမ် |
| | မြေငှားရမ်းခ | - ကျပ် ၃၃၁,၁၉၅,၃၉၂<br>(တစ်နှစ် တစ်ကေလျှင် ကျပ် ၂၆၁,၃၆၀,၀၀၀ နှုန်း) |
| | မြေအကျယ်အဝန်း | - စုစုပေါင်း ၁.၂၆၇ ကေ |
| | မြေပိုင်ရှင် | - Europe & Asia Commercial Company Limited |
| ၄။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး နှစ် ၅၀ |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | - ကျပ် ၅,၅၂၀.၀၀၀ သန်း |
| | ပမာဏ | စုစုပေါင်း (ကျပ်သန်း)<br>ငွေသား ၃၄၅၄.၂၇၅<br>စက်ပစ္စည်းတန်ဖိုး ၈၂၈.၈၁၂<br>အဆောက်အဦတန်ဖိုး ၁,၀၆၇.၂၁၅<br>ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ ၁၆၉.၆၉၈<br>**စုစုပေါင်း** ၅,၅၂၀.၀၀၀ |
| ၆။ | ဝန်ထမ်းခန့်ထားမှု | - ၁၆၅ ဦး |
| | ပြည်တွင်း | - ၁၆၅ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁၀,၄၁၀,၀၀၀ ဖြစ်ပါသည်။ |

# ကန့်သတ်

<table>
<tr>
<td>၇။</td>
<td>နှစ်စဉ်ထုတ်လုပ်မှု (ပထမနှစ်)</td>
<td>- ၁၀၀ % ပြည်တွင်းရောင်း
<table>
<tr><th>စဉ်</th><th>အမျိုးအမည်</th><th>ပြည်တွင်းရောင်း<br>အရေအတွက်<br>(Cup)</th><th><br>ရောင်းဈေးနှုန်း<br>(ကျပ်/Cup)</th></tr>
<tr><td>၁။</td><td>Passion 230ml</td><td>၁၁၇,၆၅၀,၈၈၀</td><td>၁၅၀</td></tr>
<tr><td>၂။</td><td>Orange 230ml</td><td>၉,၂၅၃,၄၄၀</td><td>၁၅၀</td></tr>
<tr><td>၃။</td><td>Power C 230ml</td><td>၂,၆၄၃,၈၄၀</td><td>၁၅၀</td></tr>
<tr><td>၄။</td><td>Strawberry 230ml</td><td>၂,၆၄၃,၈၄၀</td><td>၁၅၀</td></tr>
</table>
</td>
</tr>
<tr>
<td>၈။</td>
<td>အခြားတင်ပြချက်</td>
<td>- မြေပိုင်ရှင် Europe & Asia Commercial Company Limited ၏ မြေပိုင်ဆိုင်မှု အထောက်အထားများ တင်ပြထား ပါသည်။<br>- မြေပိုင်ရှင် Europe & Asia Commercial Company Limited နှင့် ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)ကို တင်ပြထားပါသည်။<br>- Asia, Nika, Lion, V-Code, Sport-X, D-pop (Orange), J-Box, Juice Box, Summer C, Asia Fire Dragon, Sport X, Lion အမှတ်တံဆိပ်ရှိ ရေသန့်နှင့် အချိုရည်များကို ထုတ်လုပ်မည် ဖြစ်ကြောင်းနှင့် Europe & Asia Commercial Co., Ltd. အမည်ဖြင့် FDA လိုင်စင်ရရှိထားကြောင်း တင်ပြထား ပါသည်။<br>- Europe & Asia Commercial Co., Ltd. နှင့် Europe & Asia Beverages Co., Ltd. တို့ ချုပ်ဆိုထားသည့် ကုန်အမှတ်တံဆိပ် အသုံးပြုခွင့် ပေးခြင်း ဆိုင်ရာ သဘောတူ စာချုပ် (မိတ္တူ) ကိုတင်ပြထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် Europe & Asia Beverages Company Limited အမည်ဖြင့် မြန်မာနိုင်ငံရှိ OCBC Bank တွင် ၂၈-၆-၂၀၁၉ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၁.၂၂၃ သန်း ရှိကြောင်း အထောက်အထားနှင့် CB Bank တွင် ၂၆-၆-၂၀၁၉ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၄.၀၉၁ သန်း ရှိကြောင်း အထောက်အထားများ တင်ပြထားပါသည်။<br>- Europe & Asia Beverages Company Limited ၏ ကုမ္ပဏီမှတ်ပုံတင် လက်မှတ်တင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူများ တင်ပြထား ပါသည်။<br>- စက်ရုံတည်နေရာပြမြေပုံနှင့် စက်ရုံ Layout Plan တို့ကို တင်ပြထားပါသည်။</td>
</tr>
</table>

| | | |
|---|---|---|
| ၉။ | စိစစ်တင်ပြချက် | - ဝန်ထမ်းသက်သာချောင်ချိရေး အစီအမံ၊ မီးဘေး ကာကွယ်ရေး ဆောင်ရွက်ချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်း ကာကွယ်ရေး အစီအစဉ်၊ CSR အစီအစဉ် တို့ကို တင်ပြထားပါသည်။<br>- Europe & Asia Beverages Co., Ltd. ၏ အစုရှယ်ယာရှင်များမှ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် သဘောတူညီသည့် အစည်းအဝေး ဆုံးဖြတ်ချက်များ တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ISIC 1104 တွင်ပါဝင်ပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ် အောက်တိုဘာလ ၁၀ ရက်နေ့စွဲပါ အမိန့်ကြော်ငြာစာအမှတ် ၈၄/၂၀၁၇ အရ ဆောင်ရွက်ဆဲလုပ်ငန်းကို ဆက်ခံဆောင်ရွက်ခြင်းဖြစ်ပြီး မူလကုန်အမှတ်တံဆိပ်အတိုင်း ဆက်လက် ထုတ်လုပ်ခြင်း ဖြစ်သောကြောင့် ဝင်ငွေခွန် ကင်းလွတ်ခွင့် မရရှိနိုင်ပါ။ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ အ-၀၄၅/၂၀၁၉ ( ၃၁၂ - က )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ် အောက်တိုဘာလ ၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရခိုင်နွှန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Europe & Asia Beverages Company Limited မှ အချိုရည် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်း ကိစ္စ**

၁။ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Europe & Asia Beverages Company Limited မှ ဦးပိုင်အမှတ်-၇၊ ၁၁၊ ၁၃၊ ၁၄၊ ၁၇၊ ၁၈၊ အကွက်အမှတ် ၀-၁၁၊ ဦးပိုင်အမှတ်- ၁၂၀၊ ၁၂၁၊ ၁၃၃၊ ၁၃၄၊ ၁၃၅၊ ၁၃၆၊ ၁၃၇၊ ၁၃၈၊ ၁၃၉၊ အကွက်အမှတ် လ-၁၀၊ (က) ရပ်ကွက်၊ ပြည်ကြီးတံခွန် မြို့နယ်၊ မန္တလေးတိုင်းဒေသကြီးရှိ စုစုပေါင်း မြေဧရိယာ ၁.၂၆၇ ဧက တွင် အချိုရည်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြု လျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အတည်ပြုချက်နှင့်အကူ မြေပိုင်ရှင် Europe & Asia Commercial Company Limited နှင့် Europe & Asia Beverages Company Limited တို့ ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦငှားရမ်းစာချုပ် (မူကြမ်း) နှင့် မြေပိုင်ရှင် **Europe & Asia Commercial Company Limited** ၏ မြေပိုင်ဆိုင်မှု အထောက်အထားများအား ပူးတွဲ တင်ပြထားပါသည်။

၃။ မြေငှားရမ်းသက်တမ်းမှာ ကနဦး ၁၀ နှစ် ငှားရမ်းမည် ဖြစ်ပါသည်။ မြေငှားရမ်းခမှာ တစ်နှစ် တစ်ဧကလျှင် ကျပ် ၂၆၁,၃၆၀,၀၀၀ နှုန်း ဖြင့် စုစုပေါင်းမြေဧရိယာ ၁.၂၆၇ ဧကအတွက် ကျပ် ၃၃၀,၁၉၅,၃၉၂ ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ ကျပ် ၅,၅၂၀.၀၀၀ **သန်း** ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | **စုစုပေါင်း (ကျပ် သန်း)** |
|---|---|---|
| (က) | ငွေသား | ၃၄၅၄.၂၇၅ |
| (ခ) | စက်ပစ္စည်းတန်ဖိုး | ၈၂၈.၈၁၂ |
| (ဂ) | အဆောက်အဦတန်ဖိုး | ၁,၀၆၇.၂၁၅ |
| (ဃ) | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ | ၁၆၉.၆၉၈ |
| | **စုစုပေါင်း** | ၅,၅၂၀.၀၀၀ |

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၁၆၅ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၁၀,၄၁၀,၀၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှာ အချိုရည်အမျိုးမျိုးထုတ်လုပ်ပြီး ပြည်တွင်းတွင် ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ နှစ်စဉ်ထုတ်လုပ်မှု အရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ပြည်တွင်းရောင်း | |
|---|---|---|---|
| | | အရေအတွက် (Cup) | ရောင်းဈေးနှုန်း (ကျပ်/Cup) |
| (က) | Passion 230ml | ၁၁၇,၆၅၀,၈၈၀ | ၁၅၀ |
| (ခ) | Orange 230ml | ၉,၂၅၃,၄၄၀ | ၁၅၀ |
| (ဂ) | Power C 230ml | ၂,၆၄၃,၈၄၀ | ၁၅၀ |
| (ဃ) | Strawberry 230ml | ၂,၆၄၃,၈၄၀ | ၁၅၀ |

၇။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြား ထားပါသည် -

(က) အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာနမှ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination- IEE) ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ကို ရေးဆွဲတင်ပြရမည် ဖြစ်ကြောင်း သဘောထား ပြန်ကြားလာပါသည်။

နောက်ဆက်တွဲ-က

(ခ) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိ ကြောင်း သဘောထားပြန်ကြားလာပါသည်။

၈။ ငွေကြေးအထောက်အထားအဖြစ် Europe & Asia Beverages Company Limited အမည် ဖြင့် မြန်မာနိုင်ငံရှိ OCBC Bank တွင် ၂၈-၆-၂၀၁၉ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၁.၂၂ သန်း ရှိကြောင်း အထောက်အထားနှင့် CB Bank တွင် ၂၆-၆-၂၀၁၉ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၄.၀၉၁ သန်း ရှိကြောင်း အထောက်အထားများ တင်ပြထားပါသည်။

၉။ **စိစစ်တင်ပြချက်**

(က) အဆိုပြုလုပ်ငန်းသည် ISIC 1104 တွင်ပါဝင်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ၂၀၁၇ ခုနှစ် အောက်တိုဘာလ ၁၀ ရက်နေ့စွဲပါ အမိန့်ကြော်ငြာစာအမှတ် ၈၄/၂၀၁၇

အရ ဆောင်ရွက်ဆဲလုပ်ငန်းကို ဆက်ခံဆောင်ရွက်ခြင်းဖြစ်ပြီး မူလကုန်အမှတ်တံဆိပ်အတိုင်း ဆက်လက်ထုတ်လုပ်ခြင်းဖြစ်သောကြောင့် ဝင်ငွေခွန် ကင်းလွတ်ခွင့်မရရှိနိုင်ပါ။

(ခ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင် အတည်ပြုမိန့် နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

ဆုံးဖြတ်ရန်အချက်

၁၀။ ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Europe & Asia Beverages Company Limited မှ ဦးပိုင်အမှတ်-၇၊ ၁၁၊ ၁၃၊ ၁၄၊ ၁၇၊ ၁၈၊ အကွက်အမှတ် ၀-၁၁၊ ဦးပိုင်အမှတ်- ၁၂၀၊ ၁၂၁၊ ၁၂၃၊ ၁၂၄၊ ၁၂၅၊ ၁၂၆၊ ၁၂၇၊ ၁၂၈၊ ၁၂၉၊ အကွက်အမှတ် လ-၁၀၊ (က) ရပ်ကွက်၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီးရှိ စုစုပေါင်း မြေဧရိယာ ၁.၂၆၇ ဧက တွင် အချိုရည် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ အတည်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

၆-၁-၉
ဉက္ကာဌ(ကိုယ်စား)
(သန့်စင်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-က

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၅၉၁၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ စက်တင်ဘာလ ၃ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Europe & Asia Beverages Company Limited မှ အချိုရည်ထုတ်လုပ်ခြင်းနှင့်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍သဘောထားမှတ်ချက် ပြန်ကြားခြင်း

ရည် ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁-၈-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/ အ-၀၄၆/၂၀၁၉ (၂၄၅)

၁။ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Europe & Asia Beverages Company Limited မှ ဦးပိုင်အမှတ်- ၇၊ ၁၂၊ ၁၃၊ ၁၄၊ ၁၇၊ ၁၈၊ အကွက်အမှတ်- (၀-၁၁)၊ နှင့် ဦးပိုင်အမှတ်- ၁၂၀၊ ၁၂၁၊ ၁၂၃၊ ၁၂၄၊ ၁၂၅၊ ၁၂၆၊ ၁၂၇၊ ၁၂၈၊ ၁၂၉၊ အကွက်အမှတ်- လ-၁၀(က) ရပ်ကွက်၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီးရှိ စုစုပေါင်း မြေဧရိယာ ၁.၂၆၇၂ ဧက (၅,၁၂၈.၁၈ စတုရန်းမီတာ) တွင် အချိုရည် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကိုလေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား မြေ (၅,၁၂၈.၁၈ စတုရန်းမီတာ) ပေါ်ရှိ အဆောက်အဦများအား လိုအပ်သည့် ပြင်ဆင်မွမ်းမံမှုများ ပြုလုပ်ကာ လုပ်ငန်း ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မှုအနေဖြင့် နှစ်စဉ် Passion 230 ml Cup, Orange 230 ml Cup, Power C 230 ml Cup, Strawberry 230 ml Cup ဗူးပေါင်း (၁၃၀) သန်းခန့် ထုတ်လုပ် ရောင်းချသွားမည် ဖြစ်ကြောင်း၊

(ဃ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်း ထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ် ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Europe & Asia Beverages Company Limited မှ အချိုရည်ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ လုပ်ငန်းသုံးယာဉ်/ ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေ ထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိမြေထု၊ ရေထုနှင့် လေထု ညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းခြင်း၊

(ဃ) လုပ်ငန်းလည်ပတ်ရာတွင် လိုအပ်သည့် ရေအားးစနစ်တကျ ထုတ်ယူသုံးစွဲမှုမရှိခြင်းကြောင့် မြေအောက်ရေ အရည်အသွေးနှင့် မျက်နှာပြင်နိမ့်ကျခြင်း၊

(င) အချိုရည်ထုတ်လုပ်ခြင်း လုပ်ငန်းကြောင့်ထွက်ရှိသော စွန့်ပစ်အရည်များကြောင့် ရေထုညစ်ညမ်းမှု၊ အနံ့ဆိုးများ ထွက်ရှိခြင်းကြောင့် စက်ရုံဝန်ထမ်းများနှင့် စက်ရုံအနီးပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေး ထိခိုက်မှု၊ စက်ရုံမှ ထုတ်လွှတ်သည့် အခိုးအငွေ့များတွင် အဆုတ်နှင့် အသက်ရှုလမ်းကြောင်း ထိခိုက်စေနိုင်သော အလွန်သေးငယ်သည့် အမှုန်အမွှားများ (PM10)၊ ကျပ်ခိုးနှင့် ကာဗွန်မိုနောက်ဆိုဒ် (CO) များ ပါဝင်မှု တို့ကြောင့် လေထုညစ်ညမ်းမှုစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Europe & Asia Beverages Company Limited မှ အချိုရည်ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထား မှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများ ကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်နည်းစနစ်များ အားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင် ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင် အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များ ကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း** (Initial Environ-

**mental Examination - IEE)** ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်နှင့် ဝန်ကြီးဌာနမှ လိုအပ်ပါက **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ရေးဆွဲဆောင်ရွက်ရန်၊

(ဂ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP)** အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်များ၊ အစီရင်ခံစာများ ရေးသားပြုစုရာတွင်ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

၂/၉/၁၉.

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ-ခ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
မန္တလေးမြို့

စာအမှတ် ၊ ၂ / ၃ - ၄ / ၄ ဦး ၆ ( ၆၂၈ )
ရက်စွဲ ၊ ၂၀၁၉ခုနှစ် ၊ ဩဂုတ်လ ၃၁ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁- ၈- ၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက - ၂ / အ - ၀၄၆ / ၂၀၁၉ ( ၂၄၇ )

၁။ ရခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Europe and Asia Beverages Company Limited မှ ဦးပိုင်အမှတ် ၇ ၊ ၁၂ ၊ ၁၃ ၊ ၁၄ ၊ ၁၇ ၊ ၁၈ ၊ အကွက်အမှတ် ဝ- ၁၁ ၊ နှင့် ဦးပိုင်အမှတ် ၁၂၀ ၊ ၁၂၁ ၊ ၁၂၃ ၊ ၁၂၄ ၊ ၁၂၅ ၊ ၁၂၆ ၊ ၁၂၇ ၊ ၁၂၈ ၊ ၁၂၉ ၊ အကွက်အမှတ် လ - ၁၀ ၊ (က)ရပ်ကွက် ၊ ပြည်ကြီးတံခွန်မြို့နယ်ရှိ စုစုပေါင်းမြေဧရိယာ(၁ . ၂၆၇၂)ဧကတွင် အချိုရည် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ Europe and Asia Beverages Company Limited မှ ဦးပိုင်အမှတ် ၇ ၊ ၁၂ ၊ ၁၃ ၊ ၁၄ ၊ ၁၇ ၊ ၁၈ ၊ အကွက်အမှတ် ဝ- ၁၁ ၊ နှင့် ဦးပိုင်အမှတ် ၁၂၀ ၊ ၁၂၁ ၊ ၁၂၃ ၊ ၁၂၄ ၊ ၁၂၅ ၊ ၁၂၆ ၊ ၁၂၇ ၊ ၁၂၈ ၊ ၁၂၉ ၊ အကွက်အမှတ် လ - ၁၀ ၊ (က)ရပ်ကွက် ၊ ပြည်ကြီးတံခွန်မြို့နယ်ရှိ စုစုပေါင်းမြေဧရိယာ ( ၁. ၂၆၇၂ ) ဧကတွင် အချိုရည်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည့်အပေါ် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

31/8/2019

ဒေါက်တာဇော်မြင့်မောင်
ဝန်ကြီးချုပ်

tt107

မိတ္တူကို

ဝန်ကြီး ၊ တိုင်းဒေသကြီးစီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး ၊ မန္တလေးတိုင်းဒေသကြီး

မန္တလေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

Europe and Asia Beverages Company Limited

လှည့်လည်စာတွဲ

ရုံးလက်ခံ